ကန့်သတ်

ကုမ္ပဏီအမည် - East-West Seed (Myanmar) Company Limited

လုပ်ငန်း: - သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များ ဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၇-၁၀-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | | ၁၇-၁၂-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၁-၁၁-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၂၃-၁၁-၂၀၁၅ | | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | | ၄-၁၂-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၁-၁၁-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၂၃-၁၁-၂၀၁၅ | | |
| | (ဂ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | | ၇-၁-၂၀၁၆ | |
| | (ပထမအကြိမ်) | ၁၁-၁၁-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၂၃-၁၁-၂၀၁၅ | | |
| | (ဃ) စက်မှုဝန်ကြီးဌာန | | ၂၅-၁၁-၂၀၁၅ | |
| | (ပထမအကြိမ်) | ၁၁-၁၁-၂၀၁၅ | | |
| | (ဒုတိယအကြိမ်) | ၂၃-၁၁-၂၀၁၅ | | |
| | (င) ညောင်နှစ်ပင်ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေး အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီ | ၁၂-၁-၂၀၁၆ | ၄-၂-၂၀၁၆ | |
| | (စ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၁၂-၁-၂၀၁၆ | ၅-၂-၂၀၁၆ | |
| ၃ | PAT တင်ပြခြင်း | ၄၀၂၀၁၅<br>၂-၁၁-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၁-၁၁-၂၀၁၅ | | |
| ၃ | မြေအသုံးပြုခွင့် တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၅/၂၀၁၆<br>(၁၅-၂-၂၀၁၆) | | |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | တင်ပြထားဆဲ | | |
| | MIC အစည်းအဝေးသို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိခြင်း | ၈-၃-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၁၃၃ ရက် | | |

ကုမ္ပဏီအမည် - East-West Seed (Myanmar) Company Limited

အဖွဲ့အစည်းပုံသဏ္ဍာန် - ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - သုတေသနနှင့်ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေး မျိုးစေ့များထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

တည်နေရာ - ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)၊ ညောင်နှစ်ပင်ကျေးရွာ အုပ်စု၊ မှော်ဘီမြို့နယ် နှင့် ကွင်းအမှတ် (၉၈၇)၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ် (၉၇၇)၊ ကလီထော်အနောက် ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီး ရှိ စုစုပေါင်းမြေဧရိယာ (၅) ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၆.၀၀ သန်း

အရင်းကြေကာလ - ၇ နှစ်

IRR - ၁၅%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈၁ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၅၀.၀၀၀ | - |
| ၄ | ဝင်ငွေခွန် | ၆၄၅.၀၀၀ | ၆၉၂၄.၀၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ၂၅၂.၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁၈.၀၀၀ |
| ၇ | CSR (၂%) | | ၅၀.၂၆၅ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၈၅ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၉၉၃.၃၆ | ၇၂၄၅.၄၃ |
| ၉ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် East-West Seed (Myanmar) Company Limited တည်ထောင်၍ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များ ဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြ လာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - East-West Seed International Co., Ltd. |
| | ကမကထပြုသူ | - Mr. Kittitouch Pattanakittipong (Thailand) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>East-West Seed ROH Ltd. (၉၉%)<br>(ထိုင်းနိုင်ငံ)<br>East-West Seed International B.V (၁%)<br>(နယ်သာလန်နိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - သုတေသနနှင့် ဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များ ဆောင်ရွက်ပြီး စိုက်ပျိုးရေး မျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)၊ ညောင်နှစ်ပင် ကျေးရွာ အုပ်စု၊ မှော်ဘီမြို့နယ် နှင့် ကွင်းအမှတ် (၉၈၇)၊ ကြာအင်း အုပ်စု၊ ကွင်းအမှတ် (၉၇၇)၊ ကလီထော်အနောက် ကျေးရွာ အုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးထိန်ဝင်း၊ အုပ်ချုပ်မှုဒါရိုက်တာ (ရွှေပိုးကောင်ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) |
| | မြေအကျယ်အဝန်း | - ၅ ဧက (၂၀၂၃၄.၃၀ စတုရန်းမီတာ) |
| ၃။ | မြေ ငှားရမ်းခနှုန်း | - တစ်နှစ်လျှင် US$ ၂၃,၂၆၉.၄၅<br>(တစ်စတုရန်းမီတာလျှင် US$ ၁.၁၅) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ်ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၂၄ လ |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US$ ၆.၀၀ သန်း<br>(US$ သန်းပေါင်း)<br>စုစုပေါင်း<br>ငွေသား ၀.၇၉<br>ချေးငွေ ၁.၀၀<br>စက်ပစ္စည်း ၃.၆၂<br>ကုန်ကြမ်း ၀.၅၉<br>စုစုပေါင်း ၆.၀၀ |
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကိုတင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - ၈၉ ဦး<br>- ၈၄ ဦး<br>- ၅ ဦး<br>(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံး လစာမှာ US$ ၁,၀၀၀ ဖြစ်ပြီး အနိမ့်ဆုံး လစာ US$ ၁၅၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အမြင့်ဆုံး လစာမှာ US$ ၁၅,၀၀၀ ဖြစ်ပြီး အနိမ့်ဆုံး လစာ US$ ၂,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၇၀ %၊ ပြည်ပ ၃၀ % |
| ၉။ | ကုမ္ပဏီ၏ (ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | <br>- US $ ၈.၈၀ သန်း<br>- US $ ၈.၁၁ သန်း<br>- US $ ၀.၆၉ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် )<br>ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br>- US $ ၀.၂၃ သန်း<br>- ၇ နှစ်<br>- ၁၅% |

<table>
<tr><td>၁၁။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု<br>(ဆဋ္ဌမမြောက်နှစ်)</td><td>- ၃၄၄,၆၉၀ kWh</td></tr>
<tr><td>၁၂။</td><td>နှစ်စဉ်ထုတ်လုပ်မှု<br>(ဆဋ္ဌမ မြောက်နှစ်)</td><td>
<table>
<tr><td rowspan="2">စဉ်</td><td rowspan="2">ပစ္စည်း<br>အမျိုးအစား</td><td colspan="2">အရေအတွက်<br>တန်(in thousand)</td><td colspan="2">ရောင်းဈေးနှုန်း<br>(US$/ Ton)</td></tr>
<tr><td>ပြည်တွင်း</td><td>ပြည်ပ</td><td>ပြည်တွင်း</td><td>ပြည်ပ</td></tr>
<tr><td>(က)</td><td>Vegetable Seed</td><td>၂၆၂.၃၀</td><td>၁၁၂.၄၂</td><td>၂၃,၁၈၃</td><td>၂၃,၁၈၃</td></tr>
<tr><td>(ခ)</td><td>Fruit Seed</td><td>၀.၃၁</td><td>၀.၁၃</td><td>၂၅၉,၇၆၄</td><td>၂၅၉,၇၆၄</td></tr>
</table>
</td></tr>
<tr><td>၁၃။</td><td>အခြားတင်ပြချက်</td><td>- စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၆.၀၀ သန်း အနက် အမေရိကန်ဒေါ်လာ ၁.၀၀ သန်း အား ချေးငွေ ရယူမည်ဖြစ်ပါသည်။ အဆိုပါချေးငွေကို East-West International BV Company (နယ်သာလန်နိုင်ငံ) မှ ချေးယူမည်ဖြစ်ပြီး အတိုးနှုန်း မှာ ၂% ဖြစ်ပါသည်။<br>- မြေပိုင်ရှင် အုပ်ချုပ်မှုဒါရိုက်တာ ဦးထိန်ဝင်း(ရွှေပိုကောင်း ရောင်းဝယ်ရေးကုမ္ပဏီ) နှင့် East West Seed (Myanmar) Company Limited တို့ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ East West Seed (Myanmar) Company Limited နှင့် East-West International BV Company (နယ်သာလန်နိုင်ငံ) တို့အကြား ချုပ်ဆို မည့် Loan Agreement (မူကြမ်း) တို့ကို တင်ပြထားပါသည်။<br>- မြေအထောက်အထား နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသ ကြီးအစိုးရအဖွဲ့၊ သောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုး ထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေး အထူးဇုန် ကြီးကြပ် မှုဗဟိုကော်မတီမှ ဒါရိုက်တာ ဦးထိန်ဝင်း (ရွှေပို ကောင်း ရောင်းဝယ်ရေး ကုမ္ပဏီ)သို့ လုပ်ငန်းလုပ်ကိုင်ခွင့် အမိန့် စာ၊ မြေအဆင့်ဆင့် လွှဲပြောင်းမှု၊ ငွေသွင်းချလံ အထောက် အထားများ တင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံသူများ၏ Passport (မိတ္တူ) များနှင့် နိုင်ငံသား စိစစ်ရေးကဒ် (မိတ္တူ) တို့အား တင်ပြထား ပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - ငွေကြေးအထောက် အထားအဖြစ် East-West International BVအမည်ဖြင့် နယ်သာလန်နိုင်ငံ Artesia Bank တွင် (၁-၈-၂၀၁၄) နေ့စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၈၇၂,၇၄၀,၈၅ ရှိကြောင်း နှင့် HSBC Bangkok Branch တွင် East-West Seed ROH LTD အမည်ဖြင့် (၃၁-၈-၂၀၁၅)နေ့စွဲဖြင့်အမေရိကန်ဒေါ်လာ ၁၁,၂၂၂,၁၉၉.၂၄ ရှိကြောင်းတင်ပြထားပါသည်။ တင်ပြထားပါသည်။<br>- East-West Seed ROH Ltd. အမည်ဖြင့် ထိုင်းနိုင်ငံတွင် ဖွဲ့စည်း မှတ်ပုံတင်ထားကြောင်း အထောက်အထား၊ နယ်သာလန်နိုင်ငံ East-West International BV Company မှတ်ပုံ တင်ထားကြောင်း အထောက်အထား၊ MOA, AOA တင်ပြ ထားပါသည်။<br>- အမေရိကန် တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက် တင်ပြထားပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားခြင်းဖြစ်ပါသည်။<br>- မြေအထောက်အထား နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေး အထူးဇုန် ကြီးကြပ်မှုဗဟိုကော်မတီမှ ဒါရိုက်တာ ဦးထိန်ဝင်း (ရွှေပိုကောင်းရောင်းဝယ်ရေး ကုမ္ပဏီ)သို့ လုပ်ငန်းလုပ်ကိုင်ခွင့် အမိန့်စာ၊ မြေအဆင့်ဆင့်လွှဲပြောင်းမှု၊ ငွေသွင်းချလံ အထောက်အထားများ တင်ပြထားပါသည်။<br>- မြေကိစ္စ နှင့်စပ်လျဉ်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်နေ့တွင် ကျင်းပသော (၅ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြထားဆဲဖြစ်ပါသည် |
| ၁၄။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် |

| | | |
|---|---|---|
| | | ၏အမိန့်ကြော်ငြာစာ(၄၉/၂၀၁၄) အရ မြန်မာနိုင်ငံသားများနှင့်သာ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်နိုင်သည့် လုပ်ငန်းအမျိုးအစားမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဆောင်ရွက်နိုင်သည့် လုပ်ငန်း အမျိုးအစားအဖြစ် ပြောင်းလဲသတ်မှတ်ခွင့်ပြုပါရန်ကိစ္စအား ပြည်ထောင်စုအစိုးရအဖွဲ့၏ (၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပါသည်။<br>- နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါက ခွင့်ပြုပေးနိုင်မည်ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကၡ-၂/ န-၁၃၇/၂၀၁၆ ( ၂၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် East West Seed (Myanmar) Company Limited မှ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များ ဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ ထိုင်းနိုင်ငံ East-West Seed ROH Ltd.မှ ၉၉% နှင့် နယ်သာလန်နိုင်ငံ East-West Seed International B.V မှ ၁% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် East West Seed (Myanmar) Company Limited တည်ထောင်ကာ ရာနှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၁၁-ခ)နှင့် (၅၁၉-က)၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ်(၉၈၇) နှင့် ကလီထော် အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၇၇) ရှိ စုစုပေါင်း မြေဧရိယာ ၅ ဧကကို ငှားရမ်းကာ သုတေသနနှင့် ဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးထိန်ဝင်း၊ အုပ်ချုပ်မှုဒါရိုက်တာ (ရွှေပိုးကောင် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်) နှင့် East West Seed (Myanmar) Company Limited တို့ကြား ချုပ်ဆိုမည့်မြေငှားရမ်းစာချုပ် (မူကြမ်း)၊ မြေအထောက်အထားများ၊ East West Seed (Myanmar) Company Limited နှင့် East-West International BV Company (နယ်သာလန်နိုင်ငံ) တို့အကြား ချုပ်ဆိုမည့် ချေးငွေစာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင် ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ်

(၉၈၇) နှင့် ကလီထော် အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၇၇)ရှိ စုစုပေါင်း မြေဧရိယာ ၅ ဧက (၂၀၂၃၄.၃ စတုရန်းမီတာ)အား တစ်နှစ်ငှားရမ်းခ US$ ၂၃,၂၆၉.၄၅ ရရှိမည် ဖြစ်ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၂၄ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| | | စုစုပေါင်း |
|---|---|---|
| (က) | ငွေသား | ၀.၇၉ |
| (ခ) | ချေးငွေ | ၁.၀၀ |
| (ဂ) | စက်ပစ္စည်း | ၃.၆၂ |
| (ဃ) | ကုန်ကြမ်း | ၀.၅၉ |
| | စုစုပေါင်း | ၆.၀၀ |

၆။ သုတေသနှင့် ဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များ ဆောင်ရွက်ပြီး စိုက်ပျိုးရေး မျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၈၅)ဦး နှင့် ပြည်ပ (၄)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂,၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း၌ ၇၀% ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၃၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် တန်(in thousand) | | ရောင်းဈေးနှုန်း (US$/ Ton) | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | ပြည်တွင်း | ပြည်ပ |
| (က) | Vegetable Seed | ၂၆၂.၃၀ | ၁၁၂.၄၂ | ၂၃,၁၈၃ | ၂၃,၁၈၃ |
| (ခ) | Fruit Seed | ၀.၃၁ | ၀.၁၃ | ၂၁၉,၇၉၄ | ၂၁၉,၇၉၄ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

(က) ဝင်ငွေ - ၈.၈၀

(ခ) အသုံးစရိတ် - ၈.၁၁

(ဂ) အသားတင်အမြတ် - ၀.၆၉

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၂၃ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၅% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ** အဆိုပါ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်း လုပ်သားအင်အား (၈၄)ဦးနှင့် ပြည်ပလုပ်သားအင်အား (၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ် (၉၈၇)၊ ကလီထော် အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၇၇) နှင့် မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင် ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)ရှိ စုစုပေါင်း မြေဧရိယာ ၅ ဧကအား တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် ၁.၁၅ US$ နှုန်းဖြင့် ကနဦး ၅၀ နှစ် (၂၀၁၅ ခုနှစ်မှ ၂၀၆၅ ခုနှစ် အထိ) ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှု မရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း(၁၀-၁၂-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၅၆/၂၀၁၅) ဆုံးဖြတ်ချက် အပိုဒ်(၂၂)အရ

ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ (နောက်ဆက်တွဲ - က)

(ခ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ လုပ်ငန်းဆောင်ရွက်မည့် မြေနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီမှ စည်းကမ်းချက်များ သတ်မှတ်ချထားပေးခဲ့ခြင်း ဖြစ်သည်ကို တွေ့ရှိရသည့်အတွက် မြေအသုံးချမှုနှင့် စပ်လျဉ်း၍ အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီ၏ သဘောထား ရယူဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ (နောက်ဆက်တွဲ - ခ )

(ဂ) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီ** မှ အဆိုပြုတင်ပြလာသည့် လုပ်ငန်းနှင့် ပတ်သက်၍ သဘောတူကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ (နောက်ဆက်တွဲ-ဂ)

(ဃ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်း စီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းတို့အပါအဝင် ကတိ ကဝတ်များ၊ လုပ်ငန်းစီမံချက် များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၂) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံ ပြည်သူများ၏ ဆန္ဒနှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်၊

(နောက်ဆက်တွဲ-ဃ)

(င) **စက်မှုဝန်ကြီးဌာနမှ** ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး စိုက်ပျိုးရေး မျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ် ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေး အန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့ အတွက် သက်ဆိုင်ရာ ဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။

(နောက်ဆက်တွဲ - င)

(စ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ** အဆိုပြုတင်ပြလာသည့် ချေးငွေ၏ terms and conditions များမှာ ဘောင်ဝင်သော်လည်း ကုမ္ပဏီအနေဖြင့် မတည်ငွေရင်း equity ၅ သန်းအနက် အနည်းဆုံး ၅၀ % ယူဆောင်လာပြီးမှသာ ချေးငွေအား ခွင့်ပြုနိုင်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

(နောက်ဆက်တွဲ - စ)

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် East-West International BV အမည်ဖြင့် နယ်သာလန်နိုင်ငံ Artesia Bank တွင် (၁-၈-၂၀၁၄) နေ့စွဲဖြင့် အမေရိကန် ဒေါ်လာ ၁,၈၇၂,၇၄၀,၈၅ ရှိကြောင်း၊ HSBC Bangkok Branch တွင် East-West Seed ROH LTD အမည်ဖြင့်(၃၁-၈-၂၀၁၅) နေ့စွဲဖြင့် အမေရိကန် ဒေါ်လာ ၁၁,၂၂၂,၁၉၉.၂၄ ရှိကြောင်းတင်ပြထားပါသည်။ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများ တင်ပြထား ပါသည်။

၁၂။ East West Seed (Myanmar) Company Limited မှ ကုမ္ပဏီဆိုင်ရာ အချက်အလက်များ၊ ထုတ်လုပ်မှု လုပ်ငန်းအဆင့်ဆင့်၊ လုပ်ငန်းတွင် အသုံးပြုမည့် စက်ပစ္စည်းများ၊ စိုက်ပျိုးထုတ်လုပ်ရာတွင် အသုံးပြုမည့် ပစ္စည်းနမူနာပုံများ၊ စိုက်ပျိုးမည့် မျိုးစေများ နမူနာပုံ၊ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင်

ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိ ဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၂)၊ ပုဒ်မ ၂၇ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါ သည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄၀/၂၀၁၅ (၂-၁၁-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံသားများနှင့်သာ ဖက်စပ်ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်နိုင်သည့် လုပ်ငန်းအမျိုးအစားမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်နိုင်သည့် လုပ်ငန်းအမျိုး အစားအဖြစ် ပြောင်းလဲသတ်မှတ်ခွင့် ပြုပါရန် ကိစ္စအား ပြည်ထောင်စုအစိုးရအဖွဲ့၏ (၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပါသည်။

(ခ) နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်း လွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက် ထားလာပါက ခွင့်ပြုပေးနိုင်မည် ဖြစ်ပါသည်။

(ဂ) မြေအထောက်အထား နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုး ထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေး အထူးဇုန် ကြီးကြပ်မှုဗဟိုကော်မတီမှ ဒါရိုက်တာ ဦးထိန်ဝင်း (ရွှေပိုကောင်း ရောင်းဝယ်ရေး ကုမ္ပဏီ)သို့ လုပ်ငန်းလုပ်ကိုင်ခွင့် အမိန့်စာ၊ မြေအဆင့်ဆင့် လွှဲပြောင်း အထောက်အထားနှင့် ငွေသွင်းချလံ အထောက်အထားများ တင်ပြထားပါသည်။

(ဃ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိက မြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ကော်မရှင်၏ ၅/၂၀၁၆ (၁၅-၂-၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး စီးပွားရေးရာကော်မတီ အစည်းအဝေးနှင့် ပြည်ထောင်စု အစိုးရအဖွဲ့၏အစည်းအဝေးသို့ တင်ပြရန် ဆောင်ရွက်လျက်ရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် East West Seed (Myanmar) Company Limited မှ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များ ဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁. ၁၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၃၇ / ၂၀၁၅ (၈၅၇-ဃ)

၁။ ထိုင်းနိုင်ငံ East-West Seed ROH Ltd. မှ ၉၉% နှင့် နယ်သာလန်နိုင်ငံ East-West Seed International B.V မှ ၁% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် East-West Seed (Myanmar) Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ်(၉၈၇)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၇၇)နှင့် မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၁၁-ခ)နှင့် (၅၁၉-က)ရှိ စုစုပေါင်းမြေဧရိယာ ၅ ဧကကို ငှားရမ်းကာ သုတေသနနှင့်ဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၈၄)ဦးနှင့် ပြည်ပလုပ်သားအင်အား (၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ်(၉၈၇)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၇၇)နှင့် မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၁၁-ခ)နှင့် (၅၁၉-က)ရှိ စုစုပေါင်းမြေဧရိယာ ၅ ဧကအား တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် 1.15 US$ နှုန်းဖြင့် ကနဦး(၅၀)နှစ် (၂၀၁၅ ခုနှစ်မှ ၂၀၆၅ ခုနှစ်အထိ)ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2015/Cabnet/56.,(17)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၀. ၁၂. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၆/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၂)အရ East-West Seed (Myanmar) Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
(လှည်းကူး/မှော်ဘီ)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
East-West Seed (Myanmar) Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/55.(18)

နောက်ဆက်တွဲ (ခ)

Mi<1 12/11/1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ East-West Seed ( ၈ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ ဇန်နဝါရီလ ၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁.၁၁.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၃၇/၂၀၁၅ (၈၅၇-င)
(၂) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၁၇.၁၂.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၁၁/East-West Seed (၆၄၅/၂၀၁၅)

၁။ ထိုင်းနိုင်ငံ East-West Seed ROH Ltd. မှ (၉၉) ရာခိုင်နှုန်းနှင့် နယ်သာလန်နိုင်ငံ East-West Seed International B.V မှ (၁) ရာခိုင်နှုန်း အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် East-West Seed (Myanmar) Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ် (၉၈၇)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၇၇) နှင့် မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၁၁-ခ) နှင့် (၅၁၉-က)ရှိ စုစုပေါင်း မြေဧရိယာ (၅) ဧကကို ငှားရမ်းကာ သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်း နှင့် ပြည်တွင်းပြည်ပရောင်းချခြင်းလုပ်ငန်းများကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များကို ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် (၁) ပါ စာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ အဆိုပြုတင်ပြလာသောမြေ နေရာများမှာ မြေပြင်တွင် ရှာဖွေစိစစ်၍ မရနိုင်သဖြင့် လုပ်ငန်းဆောင်ရွက်သည့် ကုမ္ပဏီများမှ သက်ဆိုင်ရာ တာဝန်ရှိပုဂ္ဂိုလ်များနှင့် ဆက်သွယ်ပြီး လုပ်ငန်းဆောင်ရွက်မည့် မြေနေရာအား စိစစ်နိုင်ရေးဆောင်ရွက်လျက်ရှိပါကြောင်း ရည်ညွှန်းချက်(၂)ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အကြောင်းပြန်ကြားခဲ့ပါသည်။

၃။ ယခုအခါ လုပ်ငန်းဆောင်ရွက်သည့် ကုမ္ပဏီများမှ သက်ဆိုင်ရာ တာဝန်ရှိပုဂ္ဂိုလ်များနှင့် ဆက်သွယ်ပြီး လုပ်ငန်းဆောင်ရွက်မည့်မြေနေရာအား စိစစ်ဆောင်ရွက်ခဲ့ရာ East-West Seed (Myanmar) Company Limited လုပ်ကိုင်မည့်မြေနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရ

အဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေး နှင့် ကြက်၊ ငါးမွေးမြူရေးအထူးဇုန်ကြီးကြပ်မှုဗဟိုကော်မတီမှ စည်းကမ်းချက်များသတ်မှတ်ချထားပေးခဲ့ခြင်းဖြစ်သည်ကို တွေ့ရှိရသည့်အတွက် မြေအသုံးချမှုနှင့်စပ်လျဉ်း၍ အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီ၏ သဘောထားရယူ ဆောင်ရွက်သင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန
- ဒုတိယဝန်ကြီး(လယ်ယာ/ဆည်မြောင်း) ၏ကိုယ်ရေးအရာရှိ
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

ဩောင်နှစ်ပင်ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့်ကြက်/ငါးမွေးမြူရေး
အထူးဇုန်ကြီးကြပ်မှုဗဟိုကော်မတီ

MIC, 63
9/2

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ (၁) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ (၇. ၁. ၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၁၁/East-West Seed (၈/၂၀၁၆)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂. ၁. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၃၇ / ၂၀၁၆ (၀၃၂-ခ)

၁။ ထိုင်းနိုင်ငံ East-West Seed ROH Ltd. မှ ၉၉% နှင့် နယ်သာလန်နိုင်ငံ East-West Seed International B.V မှ ၁% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် East-West Seed (Myanmar) Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ်(၉၈၇)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၇၇)နှင့် မှော်ဘီမြို့နယ်၊ ဩောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၁၁-ခ)နှင့် (၅၁၉-က)ရှိ စုစုပေါင်းမြေဧရိယာ ၅ ဧကကို ငှားရမ်းကာ သုတေသနနှင့်ဖွံ့ဖြိုးရေး လုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် East-West Seed (Myanmar) Company Limited မှ တင်ပြလာချက်အပေါ် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ကြောင်း သိရှိရပါသည်။

၂။ ယင်းသို့အဆိုပြုတင်ပြလာသည့် မြေနေရာနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ အထူးဇုန်ကြီးကြပ်မှုဗဟိုကော်မတီ၏ သဘောထားရယူဆောင်ရွက်သင့်ပါကြောင်း ရည်ညွှန်း(၁)ပါစာဖြင့် ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်း(၂)ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ သဘောတူကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( စိုးမင်း၊ ဥက္ကဌ )
ဩောင်နှစ်ပင်ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့်
ကြက်/ငါးမွေးမြူရေးအထူးဇုန်ကြီးကြပ်မှုဗဟိုကော်မတီ

မိတ္တူကို

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ နေပြည်တော်
လက်ခံစာတွဲ/မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MIC, 15 / 9112

MDI-5501 8.12.15

စာအမှတ် ၃(၂)/၂၁(ဃ)(၆)/( ၃၄၁၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၄ ရက်

သို့

✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ __သဘောထားမှတ်ချက်ပြန်ကြားခြင်း__

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁ - ၁၁ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၃၇ / ၂၀၁၅ (၈၅၇-စ)

၁။ ထိုင်းနိုင်ငံ East-West Seed ROH Ltd. မှ ၉၉ % နှင့် နယ်သာလန်နိုင်ငံ East-West Seed International B.V မှ ၁% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် East-West Seed ( Myanmar ) Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု ၊ ကွင်းအမှတ် (၉၈၇)၊ ကလီထော် အနောက်ကျေးရွာအုပ်စု ကွင်းအမှတ် ( ၉၇၇ ) နှင့် မှော်ဘီမြို့နယ် ၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၁၁-ခ)နှင့် (၅၁၉-က) ရှိ စုစုပေါင်း မြေဧရိယာ(၅)ဧကကို ငှားရမ်းကာ သုတေသနနှင့်ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များ ဆောင်ရွက်ပြီးစိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့်ပြည်တွင်းပြည်ပရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု လုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာတွင် စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းဖြင့် ပတ်ဝန်းကျင်အား သိသာထင်ရှားသော ထိခိုက်မှု မဖြစ်ပေါ်စေနိုင်သော်လည်း ထုတ်လုပ်ပြီး ကုန်ပစ္စည်းများ သိုလှောင်ခြင်း၊ထုပ်ပိုးခြင်းစသည့် လုပ်ငန်းစဉ်များ ဆောင်ရွက်ခြင်းတို့မှ ထွက်ရှိလာမည့် စွန့်ပစ် ပစ္စည်း / အရည် နှင့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထုနှင့် လေထု ညစ်ညမ်းခြင်းများ ဖြစ်ပေါ်စေနိုင်ပြီး သန့်စင်ခြင်း နှင့် ထုပ်ပိုးခြင်းလုပ်ငန်းစဉ်များတွင် စက်များ အသုံးပြု ဆောင်ရွက်မည်ဖြစ်သဖြင့် အသံညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ East-West Seed ( Myanmar ) Co., Ltd. မှ စိုက်ပျိုးရေး မျိုးစေ့များ ထုတ်လုပ်ခြင်း နှင့် ပြည်တွင်းပြည်ပ ရောင်းချခြင်းလုပ်ငန်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါ အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ

နောက်ဆက်တွဲ (င)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁- စမ(၂)၂၀၁၅-၂၀၁၆ (၂၈၂၀)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်



သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၃၇ / ၂၀၁၅ (၈၅၇-ဆ)

၁။ East-West Seed (Myanmar) Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ်(၉၈၇)၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၇၇)နှင့် မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၁၁-ခ)နှင့် (၅၁၉-က)တွင် စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိ ရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ East-West Seed (Myanmar) Co.,Ltd. မှ စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်းပြည်ပ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅.၁၁.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

နောက်ဆက်တွဲ (ဓ)

MPC: 32/1512



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ မဗဘ/ဘဏ်စိစစ်/ထွေ ( ၈၃/၂၀၁၆ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ East-West Seed (Myanmar) Co., Ltd. က ချေးငွေရယူရန် တင်ပြလာသည့်ကိစ္စအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက- ၂/ န-၁၃၇/ ၂၀၁၆ (၀၃၂-ဂ)

P. 206 15.2.16

ထိုင်းနိုင်ငံ East-West Seed ROH Ltd. မှ ၉၉% နှင့် နယ်သာလန်နိုင်ငံ East-West Seed International B.V မှ ၁% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် East-West Seed (Myanmar) Company Limited တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းစဉ်များဆောင်ရွက်ပြီး စိုက်ပျိုးရေးမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ပြည်တွင်း၊ ပြည်ပရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ၎င်း၏အစုရှယ်ယာဝင်တစ်ဦးဖြစ်သည့် နယ်သာလန်နိုင်ငံ၊ East West Seed International B.V Company ထံမှ အမေရိကန်ဒေါ်လာ ၁.၀၀ သန်း ချေးယူခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထားမှတ်ချက်အား အောက်ပါအတိုင်းပြန်ကြားအပ်ပါသည်-

- East-West Seed (Myanmar) Company Limited မှ အဆိုပြုတင်ပြလာသည့် ချေးငွေ၏ terms and conditions များမှာ သောင်ဝင်သော်လည်း ကုမ္ပဏီအနေဖြင့် မတည်ငွေရင်း equity ၅ သန်းအနက် အနည်းဆုံး ၅၀% ယူဆောင်လာပြီးမှသာ ချေးငွေအား ခွင့်ပြုနိုင်မည်ဖြစ်ပါကြောင်း။

(signed) 5/2/2016

ဥက္ကဋ္ဌ(ကိုယ်စား)
(ခင်စောဦး၊ ဒုတိယဥက္ကဋ္ဌ)

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယဥက္ကဋ္ဌများ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယညွှန်ကြားရေးမှူးချုပ်
နိုင်ငံခြားသုံးငွေစီမံခန့်ခွဲမှုဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

East-West Seed (Myanmar) Company Limited